# ဇွလ်ဟာစ်ဂျ်ဂျဟ်(၁၀)ရက်၏ ထူးမြတ်မှု

နှင့်

# ကျင့်ရန်၊ ကြဉ်ရန်များ

ပြုစုသူ

မွဖ်သီမုဟမ္မဒ်အာဆွင်မ်း

(မဇ္ဇာဟော့ရိ၊ နဒ်ဝိ၊ အဇ္ဇလ်ဟစနီ)



# မာတိကာ



الحمد لله الذي هدانا للإسلام ، ومنّ علينا بالصلاة على نبيه عليه الصلاة والسلام وعلى آله وصحبه الذين كانوا نجوم الهدى للأنام.

## လေးစားအပ်သော စာရှုသူသို့ ……

မွတ်စ်လင်မ်တစ်ဦးအတွက် အီမာန်၊အစ္စလာမ်ကိုပိုင်ဆိုင်ထားခြင်းကြောင့် နေ့တိုင်း၊ လတိုင်း၊စက္ကန့်တိုင်းသည် မင်္ဂလာရှိပေသည်။ ထိုမင်္ဂလာရှိသောနေ့ရက်များအနက် ရွှေပေါ် မြတင်ဘိအလား ပိုမိုထွတ်မြတ်လှသည့် နေ့ရက်များ၊ လများလည်းရှိပြန်သည်။ ရဂျဗ်၊ ရှအ်ဗာန်၊ရမ်ဇာန်လတို့၏ထွတ်မြတ်မှု၊ သောကြာနေ့၏ထွတ်မြတ်မှု စသည်ဖြင့်။ ဤနည်း အတိုင်းပင် ဇိလ်ဟဂျ်လမြတ်၏ ပထမဆုံး(၁၀)ရက်တို့သည်လည်းအလွန်ပင်ထွတ်မြတ်လှ သောနေ့ရက်များဖြစ်ကြောင်း ကျမ်းမြတ်ကုရ်အာန်နှင့်ဟဒီးဆ်တော်များတွင် အတိ အလင်းလာရှိထားပါသည်။ ထိုနေ့ရက်များရှိ ကျင့်ရန်၊ကြဉ်ရန်များ၊ ဆောင်ရန် ရှောင်ရန် များကို ခေတ်အဆက်ဆက်ရှိ ပညာရှင်များက မိမိတို့ခေတ်ရှိအများမွတ်စ်လင်မ်များကို လက်ဆင့်ကမ်းကာ သမိုင်းတာဝန်ကျေပြွန်ခဲ့ကြသည်။

နှစ်အတန်ကြာကတည်းက ကျွန်ုပ်သည်လည်း ဤအကြောင်းနှင့် စပ်လျဉ်းပြီး မြန်မာ့မြေမှ မွတ်စ်လင်မ်ညီနောင်များကို လက်ဆင့်ကမ်းရန်ဆန္ဒပြုခဲ့ပါသည်။ ထိုဆန္ဒကို အရင်းပြုပြီး ဤစာအုပ်ငယ်အား အများမွတ်စ်လင်မ် အကျိုးခံစားနိုင်ရန် လက်ဆင့်ကမ်း လိုက်ပါသည်။ အရှင်မြတ်အထူးလက်ခံပေးသနားတော်မူပါစေ။ အာမီးန်

ဤစာအုပ်ဖြစ်မြောက်ရေးတွင် အထူးကူညီပေးခဲ့သောချစ်မိတ်ဆွေ မော်လာနာ မုဟမ္မဒ် အလ်ကောင်ဆရီ၊ မုဖ်သီအဗ္ဗဒွလ်ဂနီနှင့် မိတ်ဆွေအပေါင်းကို မှတ်တမ်းတင်ကာ၊ အရှင်မြတ်ကောင်းသောအစားများ ချီးမြှင့်တော်မူပါစေဟု ဆုမွန်ချွေလျက် ……

မုဟမ္မဒ် အာစွင်းမ် နဒ်ဝီ၊ အဗ္ဗုလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ

၂၉၊ဇီလ်ကာအ်ဒဟ်၊၁၄၄၀ ၊ ၈၊၁၊၂၀၁၉ ကြာသပတေးနေ့

ဒိုဝ်ါးရ်ကိုဒိုင်ယ်ရပ်၊ မက္ကာရွှေမြို့တော်



# မော်လာနာ မုဟမ္မဒ် အလ်ကောင်ဆရီ၏

# အမှာစာ

လူတိုင်းသည် ထူးခြားခြင်းကိုနှစ်ခြိုက်ကြသည်။ ပညာရေးတွင်လည်းကောင်း၊ လူမှုရေးတွင်လည်းကောင်း၊ စီးပွားရေးတွင်လည်းကောင်း အစရှိသည့်ဘဝ၏ ကဏ္ဍတိုင်းတွင် သာမာန်အဆင့်ထက် ထူးခြားမှု ကျေနပ်ကြသည်။

ကောင်းကင်ကျ လမ်းညွှန်မှုအပေါ် အခြေခံသော အစ္စလာမ်သာသနာတော်သည် လူသားတို့၏ အတွေးအခေါ်ပေါ် အခြေခံသည့် အခြားသော အယူဝါဒများ အားလုံးထက် ထူးခြားသော သာသနာတော်ဖြစ်သည်။ ထို့ကြောင့် အစ္စလာမ်ဘာသာဝင်များ၏ ဘဝကဏ္ဍတိုင်းသည် အခြားသော အယူဝါဒရှင်များထက် ထူးခြားသည်။ ဧကန်ပင် ထူးခြားရပေမည်။

ထူးခြားထွတ်မြတ်လှသည့် အစ္စလာမ်သာသနာတော်ကြီးထဲတွင်လည်း အခြားနေ့များနှင့်မတူ တမူထူးခြားထွတ်မြတ်သည့် နေ့ထူးနေ့မြတ်များ ရှိပါသည်။ ထိုနေ့ရက်များအနက် ဟစ်ဂျ်ရီခုနှစ်၏ ဒွါဒသမလဖြစ်သော ဇွလ်ဟစ်ဂျဟ်လ၏ ပထမ(၁၀)ရက်သည်လည်း အပါအဝင်ဖြစ်ပါသည်။

ဟာဖိဇ်အိဗ်နေ့ဟဂျ်ရ် ကမိန့်ခဲ့ပါသည်။ "ဇွလ်ဟစ်ဂျဟ်လ၏ ပထမ(၁၀)ရက်သည် အခြားနေ့များနှင့်မတူ တမူထူးခြားနေခြင်းမှာ အလ္လာဟ်အရှင်မြတ်သည် နမားဇ်၊ ရိုဇာ၊ ဆွဒကဟ်၊ ဟဂ်ျ အစရှိသည့် အေဗာဒသ်ဝတ်ပြုမှုအပေါင်းကို ထိုနေ့များတွင်

တစ်စုတစ်စည်းတည်း ပေါင်းစည်းထားခြင်းကြောင့် ဖြစ်သည်။ ထိုသို့ အေဗာဒသ်အပေါင်းကို စုစည်းထားခြင်းအား အခြားမည်သည့်နေ့ရက်တွင်မျှ တွေ့ရှိရမည်မဟုတ်ပေ။”

ကျွန်တော်၏ချစ်မိတ်ဆွေ မွဖ်သီမုဟမ္မဒ်အာဆွင်းမ်(နဒ်ဝီ)သည် ထိုနေ့ရက်များ၏ ထူးမြတ်မှုများကို ခိုင်မာသော ကျမ်းကိုးအထောက်အထားများနှင့်တကွ ထုတ်နှုတ်တင်ပြထားပါသည်။ သို့သာမက ထိုနေ့ရက်များတွင် ကျင့်မူဆောက်တည်ရမည့် အမလ်များ၊ ရှောင်ကြဉ်ထိုက်သည့်အချက်များကို နံပါတ်စဉ်များဖြင့် စနစ်တကျထုတ်နှုတ်တင်ပြထားသည်ဖြစ်ရာ ထူးခြားမှုများကို ရှာဖွေနေသူတို့အဖို့ ရေငတ်နေသူ ရေတွင်းထဲကျသည့်ပမာ အားရကျေနပ်ဖွယ်ရာပင်ဖြစ်ပေတော့သည်။

ဤကျမ်းငယ်ကို အကြောင်းပြုပြီး အလ္လာဟ်အရှင်မြတ်၊ ကျမ်းပြုရှင် စာရှုသူ၊ ကူညီပံ့ပိုးသူတို့နှင့်တကွ ကမ္ဘာ့မွတ်စ်လင်မ်ထုတစ်ရပ်လုံးကို ထူးမြတ်မှုအပေါင်းအား ရယူဆွတ်ခူးနိုင်စွမ်းချီးမြှင့်ပေးသနားတော်မူပါစေ။ (အာမီးန်)

မော်လဝီမုဟမ္မဒ်ဘင်န်အိဗ်ရာဟီးမ်

(Al-Kausari)

## အစ္စလာမ်နှင့် ဇိလ်ဟာဂျ်လမြတ်၏ ပထမ(၁၀)ရက်

ဇိလ်ဟာဂျ်လဆိုသည်မှာ အစ္စလာမ့်ပြက္ခဒိန်၏ (၁၂)လမြောက်ကို ဆိုလိုသည်။ "ဟာဂျ်ပြုရသောလ"ဟု အဓိပ္ပါယ်ရသည်။ ဤလသည် "အရှ်ဟုရွလ်ဟုရုမ်"(သွေးထွက်သံယိုပြုခြင်းမှ) ရှောင်ကြဉ်ရသည့် အထွတ်အမြတ်ထားရာ(၄)လအနက် ပထမဆုံးလဖြစ်သည်။ ထို့ကြောင့် ဤလကို မွတ်စ်လင်တိုင်း လေးစားမြတ်နိုး တန်ဖိုးထားရမည်ဖြစ်သည်။

ဇိလ်ဟာဂျ်လမြတ်၏ ပထမ(၁၀)ရက်သည် မွတ်စ်လင်မ်များအတွက် အရေးပါလှသော ရက်များဖြစ်သည်။ ဟဒီးဆ်တော်ပေါင်းများစွာတွင် ထို(၁၀)ရက်သည် အမြတ်ဆုံးသော၊ အကြီးကျယ်ဆုံးသောနေ့ရက်များအနက်မှဖြစ်ကြောင်း လာရှိထားသည်။ ထိုရက်များတွင် အေဗာဒသ်ပြုခြင်း၊ဇိက်ရ်ပြုခြင်း၊သေလာဝသ်ပြုခြင်း၊ရိုဇာထားခြင်းနှင့်ဆွဒကဟ်ပြုခြင်းတို့၏ သီးသန့်အကျိုးကျေးဇူးများလည်းရှိနေသည်။

ဇိလ်ဟာဂျ်(၁၀)ရက်မြောက်နေ့သည်လည်း ကုရ်ဘာနီအီးဒ်နေ့ဖြစ်ပြီး မွတ်စ်လင်မ်တို့အတွက် ပျော်ရွှင်ဝမ်းမြောက်ရမည့်နေ့တစ်နေ့ဖြစ်သည်။ ထိုနေ့၏အီးဒ်နမားဇ်တွင်လည်း အချို့အမိန့်ပညတ်ချက်များရှိသည်။ ထိုနေ့တွင် ကုရ်ဘာနီ(အရှင်မြတ်နှင့်နီးကပ်မှုရရှိစေရန် သားကောင်ကို ဇဗဟ်လုပ်ရသည်။) ကုရ်ဘာနီပြုခြင်းတွင်လည်း အကျိုးကျေးဇူးများနှင့် အမိန့်ပညတ်ချက် အမြောက်အမြားလာရှိသည်။

ဖော်ပြပါအချက်အလက်များကို သိနားလည်ပြီး မှတ်သားလိုက်နာရန် လိုအပ်သောကြောင့် ဤနေရာတွင် အချို့သော အမိန့်ပညတ်ချက်များနှင့် အနှစ်သာရများကို စုစည်းတင်ပြသွားပါမည်။

# ဇီလ်ဟဂ်ျလမြတ်၏ ပထမ(၁၀)ရက်ရှိ ထွဋ်မြတ်မှုများ

## ကျမ်းမြတ်ကုရ်အာန်လာ ထွဋ်မြတ်မှုများ

﴿والفجر ☆ وليال عشر ☆ والشفع والوتر﴾ [الفجر:١-٣]

## အဓိပ္ပါယ်

(ငါအရှင်မြတ်သည်) နံနက်မိုးသောက်ချိန်ကို သက်သေထူတော်မူ၏။ ထို့ပြင် (ငါအရှင်မြတ်သည်) ညဉ့်ဆယ်ညဉ့်ကို သက်သေထူတော်မူ၏။ ထို့ပြင်(ငါအရှင်မြတ်သည်) စုံညဉ့်ကိုလည်းကောင်း၊ မ ညဉ့်ကိုလည်းကောင်း သက်သေထူတော်မူ၏။

## ရှင်းလင်းချက်

သဖ်စီးရ်ပညာရှင်အများစု၏ ဖွင့်ဆိုချက်အရ "မိုးသောက်ချိန်" ဟူသည် ဇီလ်ဟဂ်ျလ(၁၀)ရက်နေ့၏ မိုးသောက်ချိန်ကို ဆိုလိုသည်။ ထိုနေ့နံနက်သည် အီဒွလ်အဒ္ဒ်ဟာ အီးဒ်နေ့မြတ်ဖြစ်သည်။

ညဉ့်(၁၀)ညဉ့်ဟူသည်မှာ ဇီလ်ဟဂ်ျလ၏ ပထမဆုံး ဆယ်ညဉ့်ကို ဆိုလိုသည်။

ဒုရ်ရေ့မန်ဆူးရ်ကျမ်းလာ ဖွင့်ဆိုချက်အရ "မ ညဉ့်"ဆိုသည်မှာ ဇီလ်ဟဂ်ျလ (၉)ရက်ညဉ့် အရဖားသ်ညဉ့်ကိုဆိုလိုခြင်းဖြစ်ပြီး၊ စုံညဉ့်ဆိုသည်မှာ ဇီလ်ဟဂ်ျလ(၁၀)ရက်ညဉ့် အီးဒ်နေ့ညဉ့်ကို အထူးပြု မိန့်ဆိုထားခြင်းဖြစ်ကြောင်း" လာရှိထားသည်။

الدر المنثور ٨/٥٠١ ط : دار الفكر

ိ အခြားအာယသ်တော်တစ်ခုတွင် -

﴿الحج أشهر معلومات﴾ البقرة : ١٩٧

**အဓိပ္ပါယ်**

ဟဂ်ျပြုလုပ်ရန် လများကား (အများ)သိရှိပြီးဖြစ်သော လများပင်ဖြစ်ချေသည်။

**ရှင်းလင်းချက်**

သိရှိပြီးသော လများဆိုသည်မှာ

၁။ရှောင်ဝလ် ၂။ ဇုလ်ကအ်ဒဟ် ၃။ ဇိလ်ဟဂ်ျ လမြတ်တို့ဖြစ်သည်။

ဟာဖိဇ်အိဗ်နေ့ရဂျဗ်ဟန္ဗလီသခင်အမိန့်ရှိသည်မှာ " ဇိလ်ဟဂ်ျလမြတ်၏ ပထမ(၁၀)ရက်ဆိုင်ရာထွတ်မြတ်မှုများအနက် တစ်ခုမှာ ထိုရက်များသည် ကျမ်းမြတ်ကုရ်အာန်တွင်လာရှိထားသည့် 'သိရှိပြီးဖြစ်သောလများ' ၏ နောက်ဆုံးနေ့ရက်များဖြစ်သည်။"

﴿ ويذكروا اسم الله في أيام معلومات على مارزقهم من بهيمة الأنعام ﴾ الحج:٢٨

" အလ္လာဟ်အရှင်မြတ်၏ နာမတော်ကို ထိုအရှင်မြတ်က မိမိတို့အားချီးမြှင့်ပေးသနားတော်မူခဲ့သော ခြေလေးချောင်းတိရစ္ဆာန်အပေါ်၌ သတ်မှတ်ထားသောရက်များတွင်(ရွတ်ဖတ်)ကြရန်သော်လည်းကောင်း"

**ရှင်းလင်းချက်**

ဤအာယသ်တော်တွင် ပါရှိသည့်"သတ်မှတ်ထားသောနေ့များ" ဆိုသည်မှာ ကုရ်ဘာနီပြုလုပ်ရန်အတွက် သတ်မှတ်ထားသည့်ဇိလ်ဟဂ်ျလ(၁၀၊၁၁၊၁၂)ရက်နေ့များကို ဆိုလိုသည်။

**ဟဒီးဆ်တော်လာ ထွင့်မြတ်မှုများ**

၁။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်"အရှင်မြတ်ထံတွင် ဇိလ်ဟဂျ်လမြတ်၏ ပထမ(၁၀)ရက်၌ ပြုကျင့်သော ကောင်းမှုများထက် ပိုမိုနှစ်သက်ဖွယ်ရာလုပ်ရပ်ဟူ၍ အလျှင်းမရှိ။ ဤ(၁၀)ရက်၏ တစ်ရက်တိုင်းတွင်ထားသော ရိုဇာသည် တစ်နှစ်ပတ်လုံးထားသည့် ရိုဇာနှင့် ညီမျှသည်။ ထို့ညများတွင် နိုးနိုးကြားကြား အေဗာဒသ်ပြုခြင်းသည် ကဒရ်ညဥ့်မြတ်တွင် နိုးကြားစွာ အေဗာဒသ်ပြုခြင်း၏ အကျိုးနှင့် ညီမျှသည်။"

أخرجه الترمذي في سننه ، " العمل في أيام العشر " ر: ٧٥٨

**ထိုရက်များတွင် မည်သည့်အမလ်များ ပြုကျင့်သင့်သနည်း**

၂။ ကိုယ်တော်သခင် ﷺ မိန့်ကြားခဲ့သည်။ "အရှင်မြတ်ထံတော်၌ ဇိလ်ဟဂျ်လမြတ်၏ ပထမ(၁၀)ရက်ထက် မွန်မြတ်သော နေ့ရက်ဟူ၍ မရှိပါ။ မည်သည့်နေ့တွင် ပြုကျင့်သည့် အမလ်မျှ ထိုနေ့ရက်များတွင် ပြုကျင့်သည့် အမလ်များထက် သာပိုမှုမရှိနိုင်ပါ။ ထို့ကြောင့် အသင်တို့သည် ထိုနေ့ရက်များတွင် အောက်ပါ သတ်စ်ဗီးဟ်တော်ကို များမြောင်စွာ ရွတ်ဆိုကြပါ။"

**سُبْحَانَ اللهِ ، لاَإِلَهَ إِلاَّ اللهُ ، اَلْحَمْدُ لِلّهِ ، اَللهُ أَكْبَرُ**

စွဗ်ဟားနလ္လားဟိ ၊ လာအေ့လားဟ အိလ္လားဟု၊

အလ်ဟမ်ဒုလိ လ္လားဟိ၊ အေလ္လားဟု အက္ကဗရ်

المعجم الكبير للطبراني ر: ١١١١٦ " مجاهد عن ابن عباس " ،

ط:مكتبة ابن تيمية ـ القاهرة.

## ဇိလ်ဟဂျ် (၉)ရက်နေ့တွင် ရိုဇာထားခြင်း၏ အကျိုးကျေးဇူး

၃။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ "ဇိလ်ဟဂျ်လ(၉) ရက်(အရဖသ်နေ့)တွင် ရိုဇာထားခြင်းဖြင့် တစ်နှစ်တာကျူးလွန်မိခဲ့သည့် အပြစ်များ၊ နောက်နှစ်တွင် ကျူးလွန်မည့်အပြစ်များကို ပလပ်ပေးမည် ဟု ငါကိုယ်တော်အရှင်မြတ်ထံ မျှော်ကိုးသည်။

أخرجه الترمذي في سننه "باب فضل يوم عرفة"، ر: ٧٤٩

## အကြံပြုချက်

မွတ်စ်လင်မ်တိုင်းသည် ဇိလ်ဟဂျ်လ(၁)ရက်နေ့မှ (၁၀)ရက်နေ့ထိ မည်သည့် အမလ်အေဗာဒသ်တွင်မဆို မွေ့လျော်နေသင့်သည်။ ဖြစ်နိုင် လျှင် ထိုရက်များ၌ နေ့တွင် ရိုဇာစောင့်ထိန်းပြီး ညဥ့်ယံများကို နိုးနိုး ကြားကြား အေဗာဒသ်ပြုခြင်းများတွင် ကုန်ဆုံးလိုက်ရမည်။

ဖန်ဆင်းရှင်၏ဝတ္တရာများ၊ ဖန်းဆင်းခံအချင်းချင်းကြားရှိ ဝတ္တရား များကိုလည်း ကျေပြွန်စွာ ထမ်းဆောင်ရမည်။ စစ်မှန်သော သောဝ်ဗာ လည်း ပြုနေရမည်။ ဆွဒကဟ်ပေးခြင်းကိုလည်း ဂရုတစိုက်ပြုသင့် သည်။ ဖုန်း၊အင်တာနက်စသည်တို့တွင် အချိန်ဖြုန်းခြင်းမှ အထူးရှောင် ရှားရမည်။

## အီးဒ်နေ့ညဥ့်၏ အကျိုးကျေးဇူး

အီးဒ်နေ့၏ နေ့ပိုင်းထွတ်မြတ်သကဲ့သို့ အီးဒ်ညဥ့်သည်လည်း အရှင့်ရဟ်မသ်များရွာသွန်းဖြိုးသည့်ညဥ့်ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည် ……

“မည်သူမဆို အီးဒ်(၂)အီးဒ်၏ညဉ့်များတွင် အကျိုးမျှော်ကိုးလျှက် နိုးနိုးကြားကြား အေဗာဒသ်ဆောက်တည်ခဲ့ပါမူ ထိုသူ့နှလုံးသား သည် စိတ်နှလုံးများ မနိုးကြားနိုင်မည့်(ကေယာမသ်)နေ့တွင် ရှင်သန်နိုးကြား လျှက် ရှိနေမည်ဖြစ်သည်။

أخرجه ابن ماجة في سننه ” باب فيمن قام ليلتي العيدين “ ، ر:١٧٨٢

ထို့ကြောင့်အီးဒ်နေ့ညဉ့်ကိုလည်း တန်ဖိုးထားပြီး ဆဝါးဗ်များရရှိ စေရန် ကျင့်ကြံအားထုတ်နေရမည်။

**အမွှေးအမှင် ရှင်းလင်းခြင်းနှင့် ခြေသည်းလက်သည်း ညှပ်ခြင်း**

၄။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်။ “ဇိလ်ဟဂ်ျလမြတ် စတင်သည်နှင့် အသင်တို့အနက် ကုရ်ဘာနီပြုလုပ်ရန် ဆန္ဒပြုသူများ သည် အီးဒ်နေ့ထိ အမွှေးအမှင်ရှင်းလင်းခြင်းနှင့် ခြေသည်းလက် သည်း ညှပ်ခြင်းများကို ဆိုင်းငံ့ထားပါလေ။”

أخرجه مسلم في صحيحه ”باب نهي من دخل عليه عشر ذي الحجة وهو مريد التضحية ...... “ ر: ١٩٧٧

ရက်(၄၀)ကျော်လွန်သူများမှာမူ ဆိုင်းငံ့ထားရန်မလိုအပ်ပေ။

ရှင်းလင်းချက်။ ။ အမွှေးအမှင်ရှင်းလင်းခြင်းနှင့် ခြေသည်းလက် သည်း ညှပ်ခြင်းကို ဆိုင်းငံ့ထားစေခြင်းသည် ဟာဂျီများနှင့် တူဆင်စေ ရန်ဖြစ်သည်။ မိနာ၊အရဖားသ်၊မုဇ်ဒလေ့ဖာတွင် ဟာဂျီများအပေါ် ရွာ သွန်းဖြိုးမည့် အရှင့်ဂရုဏာမိုးများ ကျရောက်နိုင်ရန် ရည်သန်ခြင်း လည်းဖြစ်နိုင်သည်။

شہر ذی الحجہ اور قربانی کے احکام ومسائل ص:۷

## သက္ကဗီးရ် ရွတ်ဆိုခြင်း

ဇိလ်ဟဂ်ျလ(၉)ရက်နေ့ ဖဂျရ်နမားဇ်ပြီးမှ(၁၃)ရက်နေ့ အဆွရ် ပြီးထိ ဖရ်ဇ်နမားဇ်ပြီးလေတိုင်း အောက်ပါ သက္ကဗီးရ်ကို ရွတ်ဆိုရန် ဝါဂျိဗ်ဖြစ်သည်။ အဆိုပါ သက္ကဗီးရ်ကိုအမျိုးသားများသည် အသံကျယ် ကျယ်ဖြင့် ရွတ်ဆိုရပြီး အမျိုးသမီးများသည် တိုးတိုးစွာ ရွတ်ဆိုရမည်။

အမျိုးသားများအနက်ဂျမာအသ်ဖြင့်ဝတ်ပြုသူဖြစ်စေ၊ တစ်ဦး တည်း ဝတ်ပြုလိုက်ရသူဖြစ်စေ အားလုံးပေါ် သက္ကဗီးရ်ဆိုရန် ဝါဂျိဗ် ဖြစ်သည်။

اَللّٰهُ أَكْبَرُ اللّٰهُ أَكْبَرُ لاَ إِلٰهَ إِلَّا اللّٰهُ وَاللّٰهُ أَكْبَرُ اَللّٰهُ أَكْبَرُ وَلِلّٰهِ الْحَمْدُ

مصنف ابن أبي شيبة (٢/١٦٥) ر: ٥٦٧٩

### မတ်စ်အလဟ်။ ။

အထက်ပါသက္ကဗီးရ်များကို ဖရ်ဇ်နမားဇ်ပြီးပြီးချင်း ဖတ်ရမည်။ အကယ်၍အကြောင်းတစ်ခုခုကြောင့် မဖတ်မိလိုက်ဘဲ အချိန်ကျော် လွန်သွားပါက ပြန်ဖတ်ရန်မလိုတော့ပါ။ အချိန်နှင့်သက္ကဗီးရ် မဖတ် လိုက်မိသောကြောင့် သောဝ်ဗဟ် အိစ်သေ့ဂ်ဖားရ် ဖတ်နေရမည်။ ရှေ့ ဆက်၍သို့မဖြစ်စေရန် ဂရုစိုက်ရမည်။

ရှေ့ဆောင်အေမာမ်သည် သက္ကဗီးရ်ရွတ်ဆိုရန် မေ့နေလျှင်လည်း နောက်လိုက် မွတ်က်သဒီများသည် နမားဇ်ပြီးပြီးချင်း သက္ကဗီးရ်ရွတ်ဆို လိုက်ရမည်။

အီးဒ်နမားဇ်ပြီး သက္ကဗီးရ်ဆိုခြင်းနှင့် ပတ်သက်ပြီး သာသနာ့ပ

ညာရှင်များကြား သဘောထားကွဲလွဲမှုရှိသည်။ အချို့ထံတွင် သက္ကဗီးရ်ဆိုခြင်းက ပိုမိုကောင်းမွန်ကြောင်း လာရှိထားသည်။

(မတ်စ်ဗူးက်)ရကာအသ်လွတ်သွားသူသည်လည်း မိမိလွတ်ခဲ့သောရကာအသ်များကို ပြန်လည်ဖြည့်စွက်ပြီးလျှင် သက္ကဗီးရ်ရွတ်ဆိုလိုက်ရမည်။

၎င်းသက္ကဗီးရ်ကို ဖရ်ဇ်နမားဇ်များ၏ နောက်တွင်သာဖတ်ရမည်။ နဖိလ်၊စွန္နသ်နမားဇ်များအပြီးတွင်ဖတ်ရန်မလိုအပ်ပါ။

رد المحتار (١٧٩/٢) ط: دار الفكر - بيروت

قربانی کے فضائل (ص:٣٠،٣١) ، ذوالحجہ اور قربانی کے فضائل واحکام:٦٠

**သက္ကဗီးရ် ၏ သမိုင်း**

ဟဇရသ် ဂျာဗိရ် ﷺ သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည် အရဖားသ်နေ့နံနက်ဖဂျ်ရ်အချိန်မှ ဇိလ်ဟဂျ်လ (၁၃)ရက်နေ့ အစွရ်ချိန်ထိ ဖရ်ဇ်နမားဇ်ပြီးတိုင်း အောက်ပါသက္ကဗီးရ်တော်များကို ရွတ်ဆိုလေ့ရှိသည်။”

رواه الدار قطني في سننه

ဟဇရသ် အုမရ် ﷺ သခင်ကြီးသည်လည်း မိနာရှိ မိမိ၏တဲတွင် သကဗီးရ်ရွတ်ဆိုခဲ့ရာ ဗလီနှင့်ဈေးအတွင်းရှိနေသူများပင်လျှင်ကြားခဲ့ရပြီး အားလုံးကလိုက်ဆိုလိုက်ရာ မိနာတစ်ခုလုံး သက္ကဗီးရ်သံများဖြင့်ဟိန်းသွားခဲ့သည်။

رواه البخاري في صحيحه ” يكبر في قبته ......“

ဟဇရသ်အိဗ်နေ့အုမရ် ﷺ သခင်သည်လည်း ဖော်ပြပါ နေ့ရက်

များတွင် နေရာတိုင်း၊ခြေအနေတိုင်း၌ သက္ကဗီးရ်ရွတ်ဆိုကြောင်းလာရှိသည်။

أخرجه البخاري في صحيحه معلقا بصيغة الجزم ، كتاب العيدين ، باب التكبير أيام منى .

## သက္ကဗီးရ် ဘာကြောင့်ဆိုရသလဲ

သက်ဗီးရ်ဆိုခြင်းသည် ဇိက်ရ်များအနက် အကြီးကျယ်ဆုံးဇိက်ရ်တစ်ခုဖြစ်သည်။ ထို့ကြောင့် ကိုယ်တော်မြတ် ﷺ ပေါ် ကနဦးကျရောက်သည့် အာယသ်တော်များ တွင် သက်ဗီးရ်ဆိုရန် ကိုယ်တော်သခင် ﷺ အား အရှင်မြတ်ဘက်မှ လမ်းညွှန်တော်မူထားသည်။

﴿وربك فكبر﴾ [المدثر : ٣]

"၎င်းပြင်အသင်သည် အသင့်အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် ကြီးကဲမြင့်မြတ်တော်မူကြောင်း ချီးကျူးမြွက်ဆိုပါလေ။"

(၇၄ ၊ ၃)

သက္ကဗီးရ်ရွတ်ဆိုခြင်းမှာ ကြီးကျယ်သောကြောင့် အရှင်မြတ်သည် မြင့်မြတ်သည့် အေဗာဒသ်များဖြစ်သော နမားဇ်၊ ရှိဇာ၊ဟဂျ်စသည်တို့တွင် သက္ကဗီးရ်ရွတ်ဆိုရန် အမိန့်ပေးထားခြင်းဖြစ်သည်။

စွန္နသ်နဖိလ်များမပါဘဲ ဖရ်ဇ်နမားဇ်(၅)ကြိမ်တည်းတွင် သက္ကဗီးရ်(၉၄)ကြိမ်ရွတ်ဆိုရသည်။ နမားဇ်ပြီးဖတ်ရသည့် သတ်စ်ဗီးဟ်တော်တွင်လည်း သက္ကဗီးရ်(၃၄)ကြိမ်ဖတ်ရသည်။

ရှိဇာစောင့်ထိန်းပြီးလမြင်သောအခါတွင်လည်း သက္ကဗီးရ်ဖတ်ရန်အမိန့်တော်လာရှိထားသည်။

﴿ ولتكبروا الله على ماهداهكم ولعلكم تشكرون ﴾ [البقرة
:١٨٥]

"ထို့ပြင် အလ္လာဟ်အရှင်မြတ်ညွှန်ပြတော်မူသော နည်းလမ်း အတိုင်း ကြီးကဲမြင့်မြတ်တော်မူကြောင်း ရွတ်ဆိုကြရန်ဖြင့်(အလိုဆန္ဒရှိတော်မူသည်) သို့မှသာလျှင် အသင်တို့သည် (ထိုအရှင်မြတ်၏)ကျေးဇူးကို သိသောသူများဖြစ်ကြရာသည်။" (၂ ၊ ၁၈၅)

ဟဂ်ျခရီးစဉ်တစ်လျှောက်လုံးတွင်လည်း သက္ကဗီးရ်ရွတ်ဆိုရမည့်နေရာအသီးသီးသတ်မှတ်ထားသည်။

ကုရ်ဘာနီပြုပြီးချိန်တွင်လည်း သက္ကဗီးရ်ရွတ်ရန်လာရှိထားသည်။

﴿كذلك سخرها لكم لتكبروا الله على ماهداكم ﴾ [الحج :٣٧]

"သင်တို့သည် ထိုအရှင်မြတ်၏ ကြီးကျယ်တော်မူကြောင်းကို ချီးကျူးမြွက်ဟနိုင်ရန်အလို့ငှာ အရှင်မြတ်သည် ကုရ်ဘာနီသားကောင်များကိုအသင်တို့လက်အောက်ခံများအဖြစ်ပြုလုပ်ထားတော်မူသည်။"

(၂၂ ၊ ၃၇)

သက္ကဗီးရ် ဆိုရခြင်း၏ အဓိကအကြောင်းအရင်းမှာ

သက္ကဗီးရ်ဆိုသည်မှာ ရွတ်ဆိုရသော စာလုံးသက်သက်မဟုတ်ဘဲ အနှစ်သာရများ၊အဓိပါယ်များ တိမ်မြုတ်နေသည့် ဇိကိရ်တစ်ခုဖြစ်သည်။

သက္ကဗီးရ်သည် အွမသ်၏ ထူးခြားစွာရရှိသော နိအ်မသ်များအနက် တစ်ခုဖြစ်သည် ဟု အေမာမ်အိဗ်နေ့သိုင်မိယဟ် ﷺသခင်အမိန့်ရှိခဲ့သည်။

التكبير في أيام التشريق ، الشيخ د.إبراهيم بن محمد الحقيل

**သဏ္ဍာပ်ဳိးရိုးရွတ်ဆိုရခြင်း၏ အခြားအနှစ်သာရများ**

၁။ အရှင်မြတ်ကို ကြီးကျယ်သည်ဟုမှတ်ယူနိုင်ရန်

၂။ အရှင်မြတ်အား သတိရတသရန်

၃။ အရှင်မြတ်ကို ချီးမွမ်းခန်းဖွင့်နိုင်ရန်

၄။ နှလုံးသားထဲတွင် အရှင်မြတ်၏ ကြီးကျယ်မှုကို ရှင်သန်နေစေရန်

၅။ နှလုံးသားများသည် အရှင်မြတ်ဘက်သို့အာရုံအပြည့်စူးစိုက်နိုင်ပြီး
အရှင်မြတ်၏ အမိန့်တော်ကို တသဝေမတိမ်းလိုက်နာနိုင်ရန်

၆။ အရှင်မြတ်ကို ချစ်မြတ်နိုးပြီး၊အရှင်မြတ်အားအပြည့်အဝ ယုံပုံအား
ကိုးနိုင်ရန်

၇။ အရှင်မြတ်တားမြစ်သည်များမှ ရှောင်ရှားလိုစိတ်ဖြစ်ပေါ်စေရန်

၈။ အရှင်မြတ်ကို ကျေးဇူးအထူးတင်နိုင်ရန်

၉။ အစလာမ့်အထိမ်းအမှတ်တစ်ခုကို ဖော်ထုတ်ရန်

آداب العيد في الإسلام د .أحمد عرفة

**အီဒွလ်အသ်ွဟာနေ့တွင် ဆောင်ရွက်သင့်သည့် အချက်များ**

၁။ ရှရီအသ်နှင့်အညီ မိမိကိုယ်ကို ကောင်းမွန်သော အဝတ်အစားများ
ဖြင့် ဆင်ယဥ်ချယ်သခြင်း

၂။ တတ်နိုင်လျှင် ရေချိုးခြင်း ၃။ မိစ်ဝါးက်တိုက်ခြင်း

၄။ အမွှေးနံ့သာ သုတ်လိမ်းခြင်း

၅။ အီးဒ်နမားဇ်အတွက် ဗလီသို့ လျှင်မြန်စွာ လာရောက်ခြင်း

၆။ ဖဂျ်ရ်အချိန်မှစ၍ အီးဒ်နမားဇ်မပြီးမချင်း မည်သည့်အရာမျှ မစား

သုံးခြင်း

၇။ လွယ်ကူလျှင် အီးဒ်ဂါတွင် နမားဇ်ဝတ်ပြုခြင်း

၈။ အီးဒ်ဂါ(သို့)ဗလီသို့တစ်လမ်းမှသွားပြီး အခြားတစ်လမ်းမှ ပြန်လာခြင်း

၉။ ဖြစ်နိုင်လျှင် ခြေလျှင်လျှောက်ပြီး အောက်ပါ သက္ကဗီးရ်ကို ရွတ်ဆိုနေခြင်း

اَللّٰهُ أَكْبَرُ اَللّٰهُ أَكْبَرُ لاَ إِلٰهَ إِلَّا اللّٰهُ وَاللّٰهُ أَكْبَرُ اَللّٰهُ أَكْبَرُ وَلِلّٰهِ الْحَمْدُ

အီးဒ်နမားဇ်မတိုင်မီ၊ အီးဒ်နမားဇ်အပြီး ဗလီ(သို့) အီးဒ်ဂါတို့ တွင် မည်သည့် နဖိလ်နမားဇ်မျှ မဆောက်တည်ရပေ။

شہر ذي الحجۃ اور قربانی کے مسائل (ص:۲۴)

## နိဂုံးချုပ်အကြံပြုချက်

ဇိလ်ဟဂျ်လ၏ ပထမ(၁၀)ရက်ဆိုင်ရာ ထွတ်မြတ်မှုများကို သာသနာ့ပညာရှင်များက မိမိတို့လက်လှမ်းမှီသရွေ့ ပုံစံအမျိုးမျိုးဖြင့် တင်ဆက်ထားကြသည်။ ကိုယ်တော်သခင့်၏ အွမ္မသီတိုင်း ဤနေ့ရက်များကို တန်ဖိုးထားပြီး လောကီ၊လောကုတ္တရာတွင် အကျိုးမဲ့စေမည့် လုပ်ရပ်များမှ ရှောင်ကြဉ်ပြီး ရသမျှဆဝါးဗ်များကို သိမ်းယူသင့်သည်။

အဗ္ဗူ စအ်ဖာ: မုဟမ္မဒ် အာစွင်းမ် နဒ်ဝီ၊ အဗ္ဗုလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ

၂၉၊ဇိလ်ကအ်ဒဟ်၊၁၄၄၀ ၊ ၈၊၁၊၂၀၁၉ ကြာသပတေးနေ့

ဒိဝ်ဝါးရ်ကိုဒိုင်ယ်ရပ်၊ မက္ကာရွှေမြို့တော်